ဓမ္မဒူတစာစဉ်



ဓမ္မဒူတ

ဒေါက်တာအရှင်ပညိဿရ

B.A (Myanmar), M.A (Srilanka), Ph.D (India)

သာသနဓဇဓမ္မာစရိယ၊ သာသနဇောတိပါလဓမ္မာစရိယ၊ သာသနဟိတဂဏဝါစကာစရိယ

မဟာဂန္ထဝါစကပဏ္ဍိတ

# တရားဘယ်လိုကျင့်ရမလဲ





GRAPHIC NAY WINN AUNG



# ဓမ္မဒူတ ဒေါက်တာအရှင်ပညိဿရ

B.A (Myanmar), M.A(Srilanka), Ph.D (India)

သာသနဓဇဓမ္မာစရိယ၊ သာသနဇောတိပါလဓမ္မာစရိယ၊ သာသနဟိတကာရီဓမ္မာစရိယ

မဟာဂန္ထဝါစကပဏ္ဍိတ

# Press Record



---


| | | |
|---|---|---|
| Manuscript permission | ◆ | 3203180606 |
| Cover permission | ◆ | 3204490607 |
| Cover Design | ◆ | Ko Nay Winn Aung |
| Cover Film | ◆ | Stars |
| Inside Film | ◆ | Ko Lu Maw |
| DTP | ◆ | Ma Pone Nyat Hlaing |
| Publisher | ◆ | U Thein Soe (P-03982) |
| | | Thiha Yatana Sarpay. |
| Printer | ◆ | U Tin Aung Kyaw |
| | | Swe Taw Press, |
| | | No.87, 56 Street, |
| | | Yangon. |
| Circulation | ◆ | 1000 |
| Price | ◆ | /-ks |


## ဓမ္မဒူတ ဒေါက်တာအရှင်ပညိဿရ

၁၉၆၄ ခုနှစ်၊ ဇန်နဝါရီလ (၂၃)ရက်၊ ကြာသပတေးနေ့တွင် သထုံမြို့ ညောင်ပိုင်းရပ်၌ ဦးကျော်လှိုင် + ဒေါ်မြင့်ကြည် တို့မှ မွေးချင်းငါးယောက်အနက် သားဦး အဖြစ် ဖွားမြင်သည်။

သထုံမြို့၌ အခြေခံပညာအထက်တန်း ဖြေဆိုပြီးနောက် ၁၉၈၁ ခုနှစ်တွင် ကျေးဇူးတော်ရှင် ဓမ္မဒူတ ဆရာတော်ကြီး ဘဒ္ဒန္တ ပညာဇောတ (အဂ္ဂမဟာ သဒ္ဓမ္မ ဇောတိကဓဇ) ကို ဥပဇ္ဈာယ်ပြုကာ ဆရာတော်၏ ပဗ္ဗယာ နဂ္ဂဟာ ဓမ္မာနဂ္ဂဟာဖြင့် သာသနာ့ဘောင်သို့ စတင် ဝင်ရောက် သည်။

ရှင်သာမဏေဘဝမှ စတင်ကာ မွန်ပြည်နယ်၊ ဘီးလင်းမြို့နယ်၊ တောင်စွန်း ဓမ္မဒူတတောရတွင် ပဋိပတ္တိနှင့် တွဲဖက်ပြီး ပရိယတ္တိစာပေများကို ပထမကြီးတန်းတွင် အောင်မြင်သည် အထိ သင်ယူခဲ့သည်။ အထက်တန်း ပိဋကတ်စာပေများကို မန္တလေး၊ ပခုက္ကူ။ စစ်ကိုင်းတို့တွင် လည်းကောင်း၊ သီရိလင်္ကာ နိုင်ငံနှင့် အိန္ဒိယနိုင်ငံရှိ တက္ကသိုလ် တို့တွင် လည်းကောင်း ဆက်လက်သင်ယူခဲ့သည်။

၁၉၈၈ - မန္တလေးတက္ကသိုလ်မှ (B.A) ဘွဲ့၊
၁၉၈၉ - သာသနဇောတိပါလ ဓမ္မာစရိယဘွဲ့၊
၁၉၉၀ - သာသနဓဇ ဓမ္မာစရိယဘွဲ့၊
၁၉၉၇ - သီရိလင်္ကာနိုင်ငံမှ (M.A) ဘွဲ့၊
၁၉၉၉ - သာသနဟိတ ဂဏဝါစက အာစရိယဘွဲ့၊
၂၀၀၅ - ခုနှစ်တွင် အိန္ဒိယနိုင်ငံမှ
(Ph.D) ဘွဲ့တို့ကို ရရှိခဲ့သည်။

ဓမ္မဒူတဆရာတော်ဘုရားကြီး လွန်တော်မူချိန်မှစ၍ တောင်စွန်း ဓမ္မဒူတ တောရကျောင်းတိုက်၌ သီတင်းသုံးကာ ဂဏဝါစက နာယက ကမ္မဋ္ဌာနာစရိယ အဖြစ် တာဝန်ယူ ဆောင်ရွက်ရင်း စာပေပို့ချခြင်း၊ စာပေရေးသားခြင်း၊ တိုင်းနှင့် ပြည်နယ် အသီးသီးရှိ ဓမ္မဒူတ တရားစခန်းများ၊ တရားပွဲများ သို့ ကြွရောက် ဟောပြော ပြသခြင်းတို့ဖြင့် သာသနာ့တာဝန် များ ထမ်းဆောင်ပါသည်။

ယခုအခါတွင် ပဲခူးမြို့ ဆယ်မိုင်ကုန်း၊ ဟံသာဝတီ ဂေါက်ကွင်းအနီး၌ ဓမ္မဒူတတောရ သာသနာ့ရိပ်သာကို တည်ထောင်ကာ ပြည်တွင်းပြည်ပ ယောဂီများ ချမ်းသာစွာ တရားဓမ္မ အားထုတ် ကျင့်သုံးနိုင်ရေးအတွက် သာသနိက အဆောက်အအုံများ တည်ဆောက်ကာ လစဉ်တရားစခန်း ပြသလျက် ရှိပါသည်။

# တရားဘယ်လိုကျင့်ရမလဲ

၁၃၆၇ ခုနှစ်၊ နယုန်လပြည့်ကျော် (၉)ရက်နေ့ညတွင် ကျိုက်ထိုမြို့ ဆံတော်ရှင်ကျိုက်ထီးရိုး စေတီတော်မြတ်တွင် ဆင်ယင်ကျင်းပအပ်သော ဓမ္မဒူတ ဓမ္မာနုပဿနာသတိပဋ္ဌာန် (၇)ရက်တရားစခန်း ကျင့်သုံးပွဲတွင် ဟောကြားအပ်သော "တရားဘယ်လိုကျင့်ရမလဲ တရားတော်"။

ဒီကနေ့ညမှာ ဆံတော်ရှင် ကျိုက်ထီးရိုး စေတီတော် မြတ်မှာ ဆင်ယင်ကျင်းပတဲ့ (၉)ကြိမ်မြောက် တရားစခန်းရဲ့ ပထမဦးဆုံးရက် ပထမဦးဆုံးည တရားပွဲ ဖြစ်တာမို့လို့ တရား စခန်း ဝင်ရောက် ကျင့်ကြံအားထုတ် ကြမယ့် ယောဂီများ (၇)ရက်တိုင်တိုင် ကျင့်ကြံပွားများ အားထုတ်တဲ့ နေရာမှာ ဘယ်နည်းဘယ်ပုံ ကျင့်ကြံရမယ် အားထုတ်ရမယ် ဘယ်လို ရှုမှတ်ရမယ် ဆိုတာလည်း သိရှိစေဖို့နဲ့ မိမိတို့ တင်သက်တာ

ကာလမှာ ဆက်လက်ပြီး တရားဓမ္မ ကျင့်ကြံ ကြိုးကုတ် အားထုတ်တဲ့အခါမှာလည်း ကျင့်နည်း လမ်းစဉ် တစ်ခု ရစေဖို့ "တရားဘယ်လို ကျင့်ရမလဲ" ဆိုတဲ့ အလုပ်ပေးတရားတော်ကို ဒီကနေ့ညမှာ ဟောကြ နာကြပါမယ်။

ကျေးဇူးတော်ရှင် ဓမ္မဒူတ ဆရာတော်ဘုရားကြီး ဟော ပြောရေးသားခဲ့တဲ့ ဓမ္မာနုပဿနာရှုပွားနည်းကို အခြေခံ ပြီးတော့ အကျဉ်းချုပ်အနေဖြင့် အားထုတ်ပုံ အားထုတ်နည်း ဟောပါမယ်။

တရားအားထုတ်မယ်၊ တရားကျင့်မယ်ဆိုတော့ ဘယ် လိုကျင့်ရမလဲ၊ ဘာကိုရှုမှတ်ရမလဲဆိုတဲ့ မေးခွန်း မေးစရာ ရှိလာပါတယ်။ မေးလည်း မေးတတ်ကြပါတယ်။ လူကြီးလူငယ် မရွေး ဧတော်တော်များများက တရားအားထုတ် ချင်စိတ် ဖြစ်လာတဲ့အချိန်မှာ "အရှင်ဘုရားတရားဘယ်လို ကျင့်ရမလဲ" လို့ မေးလျှောက်တတ်ကြပါတယ်။

တရားကျင့် ချင်စိတ် ဖြစ်လာပြီဆိုတဲ့ အချိန်ခါမှာ ဘယ်လိုကျင့်ရမယ်၊ ဘာကိုရှုမှတ်ရမယ်၊ ဘယ်လို ရှုမှတ်ရမယ် ဆိုတာ မသိဘဲနဲ့ ရှုလို့ မှတ်လို့ ကျင့်ကြံအားထုတ်လို့ မရပါဘူး။ ကျင့်နည်း အားထုတ်နည်း ရှုပွားနည်းကို စနစ်တကျ သိထားဖို့ လိုပါတယ်။

အဲဒီအတွက် လက်ာဆောင်ပုဒ်လေးတစ်ခု ပြောပေး လိုက်ပါမယ်။



*** ရုပ်. နာမ် ခန္ဓာ ထင်ရှားရာပေါ်ရာ မပြတ်ရှုရခြင်း။ ***

အခု ဘုန်းကြီးတို့ပရိသတ်မှာ ရှိနေတဲ့ ခန္ဓာကိုယ်ကို နှစ်မျိုးခွဲကြည့်ရင် ရုပ်ခန္ဓာနဲ့ နာမ်ခန္ဓာလို့ နှစ်မျိုးနှစ်စား ရှိပါတယ်။ ရုပ်ခန္ဓာနဲ့ နာမ်ခန္ဓာလို့ နှစ်မျိုးရှိနေတော့ ရုပ်ခန္ဓာနဲ့ နာမ်ခန္ဓာကို မပြတ်ရှုမှတ်ရမယ်။ တရားအနေနဲ့ ပြောရမယ်ဆိုရင် ရုပ်တရား နဲ့ နာမ်တရားကို မပြတ်ရှုမှတ်ရပါမယ်။

ရုပ်တရားနဲ့ နာမ်တရားကို ရှုမှတ်တဲ့ နေရာမှာ တစ်ခါ တလေမှာ ရုပ်တရားက ရှုမှတ်ရ လွယ်တာလည်း ရှိတယ်။ နာမ်တရား ရှုတော့မှ ကျေကျေနပ်နပ်နဲ့ အားရတာ မျိုးလည်းပဲ ရှိတယ်။ အဲဒီတော့ ရုပ်နဲ့နာမ် ဘာကို ရှုမှတ်ရမလဲ။ အရှုခံက နှစ်မျိုးလို ဖြစ်နေပါတယ်။

ရုပ်တရားနဲ့ နာမ်တရား၊ ရုပ်ခန္ဓာနဲ့ နာမ်ခန္ဓာ နှစ်မျိုးမှာ ဘယ်ဟာကိုရှုရင် ကောင်းမလဲပေါ့။ နှစ်မျိုးလုံး တစ်ပြိုင်တည်း တော့ ရှုမှတ်လို့မရပါဘူး။ တစ်ခုခုကိုပဲ ရှုမှတ်လို့ရမယ် ဆိုတော့ ဘယ်လိုရွေးချယ်မလဲဆိုရင် ထင်ရှားရာ ပေါ်ရာကို ကြည့်ပါ။

ရုပ်တရားနဲ့ နာမ်တရားမှာ ဘယ်တရားက ထင်ရှားလဲ၊ ရုပ်တရား ထင်ရှားရင် ရုပ်ကိုရှုမှတ်၊ နာမ်တရား ထင်ရှားရင် နာမ်ကိုရှုမှတ်ပါ။

ဒီလိုမှ မဟုတ်လည်းဘဲ ရုပ်တရားက ကိုယ့်အသိ ဉာဏ်ထဲမှာ ပိုပြီးတော့ ပေါ်လွင်တယ်ဆိုရင် ရုပ်ကိုရှုမှတ်၊ နာမ်တရားကမှ ပိုပြီးတော့ ထင်ထင်ပေါ်ပေါ် သိသိတာသာ

ရှိတယ်ဆိုရင် နာမ်ကိုရှုမှတ်လို့ အရှုခံတရားကို ဦးစွာ သိရပါမယ်။

အရှုခံတရားသည် ရုပ်နှင့်နာမ်ပါ။

ဘယ်လိုရှုမှတ်ရမလဲဆိုရင် ထင်ရှားရာ ပေါ်ရာကို ရှုမှတ်ရပါမယ်။

ရှုမှတ်တဲ့ အချိန်အခါမှာ ထင်ရှားလာတဲ့ရုပ် ထင်ရှားလာတဲ့နာမ်၊ ပေါ်လွင်လာတဲ့ရုပ် ပေါ်လွင်လာတဲ့ နာမ်ကို အဆက်မပြတ် ရှုမှတ်ရပါမယ်။ ရှုမှတ်တယ်ဆိုတာ ကိုယ့်ရဲ့ အသိဉာဏ်မှာ ထင်အောင် မြင်အောင် ကြည့်နေတာပါ။ စိတ်ထဲက ရွတ်ဖတ်နေတာ၊ နှုတ်ကနေ ရွတ်ဆိုနေတာမျိုး မဟုတ်ပါဘူး။

ပြတ်တောင်း ပြတ်တောင်းနဲ့ တချို့ကလည်း ရှုတစ်လှည့် မရှုတစ်လှည့်၊ ရှုချင်တဲ့အချိန်ကျတော့ရှု၊ မရှုချင်တဲ့အချိန် ကျတော့ ဟိုဟိုဒီဒီ စဉ်းစားပြီးတော့နေတယ်။ မရပါဘူး။ ကျိုးတိုးကျဲတဲနဲ့ ရှုမှတ်မှု အဆက်ပြတ်လို့ မရဘူး။ အဆက်မပြတ်အောင် ရှုမှတ်နေရမယ်။ ကြည့်နေရပါမယ်။

တချို့ယောဂီတွေ တရားတော့ ရတော့ရချင်သလို ရှိပါတယ်။ ဒါပေမဲ့ ဘာဖြစ်လို့ မရသလဲ ဆိုရင် ရှုမှတ်မှုတွေ အဆက်ပြတ် ပြတ်သွားလို့ပါ။

ကြိုးစားပြီး တရားရှုမှတ်တယ်။ အတော်ကြီးကို ဟုတ်နေပြီး တော်နေကြာကျတော့ စိတ်မပါလို့ မရှုပြန်ဘူး။



နောက်အတော်လေးကြာတော့မှ တစ်ခါပြန်ရှုမှတ်တော့ တရား အဆက်ပြတ် ပြတ်သွားတဲ့အတွက် တရားရဖို့ မလွယ်ပါဘူး။

အဆက်မပြတ် ရှုရမယ်တဲ့။ ဆက်ကာဆက်ကာနဲ့ကို ရှုနေရမယ်။ ဘာကို ရှုရမလဲဆိုရင် ရုပ်နဲ့နာမ် ကိုပါ။

ဓမ္မာနုပဿနာ ဝိပဿနာရှုပွားနည်းအရ ရုပ်ဆိုတာ ကိုအဓိပ္ပာယ် ဖွင့်ကြည့်ကြမယ်။

## * ကိုယ်မှာထင်ရှား သတိထားရုပ်တရားလို့ ရှုရခြင်း *

ဒီခန္ဓာကိုယ်မှာ သတိထားကာ စောင့်ကြည့်တဲ့အချိန်မှာ ခန္ဓာကိုယ်မှာ ပေါ်လာတဲ့ သဘောတရားသည် ရုပ်တရားပါ။

ဒီခန္ဓာကိုယ်မှာ ထင်ထင်ရှားရှား ဖြစ်နေတယ်၊ ဖြစ်လာတယ်။ သတိတော့ ထားရမယ်။ ခန္ဓာမှာ သတိထား၊ ခန္ဓာမှာ သတိစိုက်၊ သတိလေး ခန္ဓာမှာကပ်လိုက်တဲ့ချိန်ခါမှာ ကိုယ်မှာ ထင်ရှားတဲ့ သဘောတရားတွေ ပေါ်လာမယ်။

အဲဒီသဘောတရားတွေဟာ ရုပ်တရားပါ။ ကိုယ်မှာ ဖြစ်ပေါ်နေတဲ့ သဘောတရားသည် ရုပ်တရားပါ။ ကိုယ်မှာ ပေါ်နေတဲ့ သဘောတရားတွေကို ကြည့်နေပါ။ ကိုယ့်ခန္ဓာ ကိုယ်ကို အာရုံပြုကာ ဆံဖျားကနေ ခြေဖျားတိုင်အောင် တစ်လုံးမျှလောက်သော ခန္ဓာကိုယ်မှာ ဘယ်လိုသဘောတရား တွေ ပေါ်လာမလဲ၊ ပေါ်နေမလဲလို့ စောင့်ကြည့်၊ သတိထား ကြည့်နေပါ။

ကျားသစ်များ အစာချောင်းနေသလိုပေါ့။ တောထဲက ကျားသစ်တွေ အစာချောင်းတဲ့အခါမှာ ချုံပုတ်လေးထဲကနေ

အသာဝပ်ပြီးတော့ စောင့်ကြည့်နေတယ်၊ သားကောင်တွေရဲ့ လာရာလမ်းတစ်နေရာမှာ ငြိမ်ပြီး စောင့်ပြီးတော့ ကြည့်နေတယ်။ ဒီနေရာကို ဘယ်သားကောင် ရောက်လာမလဲပေါ့။ သမင်တွေ ရောက်လာမလား။ ဒရယ်တွေ ရောက်လာမလား။ ချေတွေရောက်လာမလားပေါ့။ ငြိမ်ငြိမ်ဝပ်ပြီးတော့စောင့်ကြည့်နေတယ်။

အဲဒီလိုစောင့်ကြည့်တဲ့ချိန်ခါမှာ သူ့နားရောက်လာတဲ့ သားကောင်ကို တွေ့ပြီမြင်ပြီဆိုတော့မှ ဒီသားကောင်ကို ဖမ်းပါတယ်၊ ဒီနည်းအတိုင်းပါပဲ။ တရား အားထုတ်တဲ့ချိန်ခါ တရားရှုမှတ်တဲ့ ချိန်ခါကျတော့ ခန္ဓာကိုယ်မှာ စောင့်ကြည့်နေပါ။

ခန္ဓာကိုယ်မှာ သတိလေးနဲ့ စောင့်ကြည့်နေပါ။ ကိုယ်ပေါ်မှာ သတိထားကာ စောင့်ကြည့်တဲ့ချိန်ခါမှာ ဖြစ်လာပေါ်လာတဲ့ သဘောတရားကို ရုပ်တရားလို့ မှတ်ထားပါ။

***စိတ်မှာ ထင်ရှား သတိထားနာမ်တရားလို့ ရှုရခြင်း***

ရုပ်. နာမ်. ခန္ဓာလို့ပြောလိုက်တော့ နာမ်ဆိုတဲ့ သဘောတရားလေး သိအောင် နည်းနည်းအကျယ်ချဲ့ပြီး ရှင်းပါမယ်။ ရုပ်ဆိုတာသည် ကိုယ်မှာထင်ရှားတဲ့ သဘော တရား၊ ကိုယ်မှာ သိသာထင်ရှားတာသည် ရုပ်တရားပါ။

စိတ်ထဲမှာ ပေါ်နေမယ် ထင်ရှားမယ် ဖြစ်လာမယ် ဆိုတဲ့သဘောသည် နာမ်တရားပါ။ စိတ်ထဲ ဖြစ်တာ စိတ်ထဲ ပေါ်လာတာ နာမ်တရား။ စိတ်ထဲမှာ ထင်ရှားနေတာ စိတ်ကနေ သိနေတာသည် နာမ်တရားပါ။



လူတစ်ယောက်မှာ ဘာရှိသလဲလို့ ကြည့်လိုက်ပါ၊ လူဆိုတာ ကိုယ်နဲ့စိတ် ပေါင်းထားတာပါ။ ကိုယ်နဲ့စိတ် ပေါင်းစပ်ထားတဲ့ သတ္တဝါပါ။ ရုပ်နဲ့နာမ် ပေါင်းစပ် ဖွဲ့စည်းထားတာကို လူလို့ ခေါ်နေကြပါတယ်။

ပြင်ပကနေပြီးတော့ မြင်သာထင်သာတဲ့ သွားလာလှုပ်ရှားနိုင်တဲ့ ဒီခန္ဓာကြီးသည် ရုပ်ခန္ဓာပါ။

တွေးတတ် ကြံစည်တတ် သိတတ်တဲ့ သဘောကို နာမ်ခန္ဓာလို့ ပြောရပါမယ်။

ဒီတော့ ရုပ်နဲ့ နာမ်နဲ့ နှစ်မျိုး သိသာသွားပြီ၊ ကိုယ်မှာ ထင်ရှားရင် ရုပ်တရား။ စိတ်မှာထင်ရှားရင် နာမ်တရားပါ။

အဲဒီနှစ်မျိုးကို တွေ့အောင် မြင်အောင် သိအောင် သတိထားပြီးကြည့်ပါ။

သတိထားကာ စောင့်ကြည့်တဲ့ချိန်ခါမှာ ထင်ရှားလာလိမ့်မယ်။ ပေါ်လာပါလိမ့်မယ်။

တရားရှာတယ် တရားရှာတယ်လို့ပြောတော့ အခုကျင့်ကြံအားထုတ်နေကြတဲ့တရားဟာ လိုက်ရှာရမှာလား၊ စောင့်ကြည့်ရမှာလားဆိုရင် စောင့်ကြည့်ရမှာပါ။

လိုက်မရှာပါနဲ့၊ ဘယ်နေရာမှာ တရားပေါ်လာမလဲ၊ ဘယ်နေရာ တရားဖြစ်လာမလဲ ဆိုပြီးတော့ လိုက်မရှာနဲ့။ ဘာတွေဖြစ်ချင်ပါတယ်၊ ဘယ်လိုဖြစ်လာရင်ကောင်းမယ်လို့ မမျှော်ပါနဲ့။ အသာလေး တစ်နေရာက စောင့်ကြည့်နေပါ။

ခုနတုန်းက ကျားသစ် အစာချောင်းသလို ငြိမ်ငြိမ်လေး နေပြီး တော့ ကြည့်နေပါ။ ကြည့်နေမယ်ဆိုရင် တွေ့လာပါလိမ့်မယ်။

ကိုယ်မှာ သေချာစွာ ကြည့်လိုက်ရင်လည်းပဲ ကိုယ်ပေါ်မှာ ဖြစ်နေတဲ့ သဘောတရားတွေ ထင်ရှားတွေမြင်လာလိမ့်မယ်။ စိတ်မှာကြည့်ရင် စိတ်ထဲမှာဖြစ်နေတဲ့ သဘောတရားတွေ ထင်ရှားတွေမြင် လာလိမ့်မယ်။ ထင်ရှားလာ ပေါ်လွင်လာတဲ့ သဘောတရားကို အဆက်မပြတ် ကြည့်ရှုနေတာဟာ တရားကျင့်နေတာပါပဲ။

ဓမ္မာနုပဿနာသတိပဋ္ဌာန် ဆိုတဲ့နေရာမှာ ဓမ္မ ဆိုတာ သည် ရုပ်နဲ့နာမ်၊ အနုပဿနာ ဆိုတာ ထပ်ကာထပ်ကာ ရှုတာပါ။ တစ်ခါတလေ မဟုတ်ဘူး။ ထပ်ကာထပ်ကာ ရှုမှတ်နေတာပါ။

တစ်ကြိမ်တလေ မဟုတ်ဘူး။ အကြိမ်များစွာ အကြိမ်ပေါင်းများစွာ ရှုမှတ်နေတာပါ။

မရပ်မနား ထပ်ကာထပ်ကာ မပြတ်ရှုမှတ်နေတာသည် အနုပဿနာ။ ဘာကိုရှုမလဲဆိုရင်တော့ ဓမ္မလို့ခေါ်တဲ့ ရုပ်နဲ့နာမ်ကိုပါ။ ရုပ်ဓမ္မ. နာမ်ဓမ္မ ကို သတိထား စောင့်ကြည့် ကာ ထင်ရှားရာ ပေါ်လွင်ရာမှာ မပြတ်ရှုမှတ်နေတာသည် ဓမ္မာနုပဿနာသတိပဋ္ဌာန်ပါ။

တရားအလုပ်မှာ သတိထားရပါတယ်။ အရှုခံ ရုပ်နာမ်ကို သတိထားရမယ်။ တရားအလုပ်က ရှင်းရှင်းပြောရင် သတိအလုပ်ပါ။ မြန်မာ စကားပုံတစ်ခုရှိပါတယ်။



"စကားချုပ်တော့ ကတိ၊ တရားချုပ်တော့ သတိ" တဲ့။

စကားတွေ ဘယ်လောက်ပဲများများ အဲဒီစကားတွေရဲ့ အချုပ်သည်ကတိပါတဲ့။ တရားကို ချုပ်ထားတာက သတိပါတဲ့။ အဲဒီတော့ သတိတစ်လုံးရှိပြီဆိုလို့ရှိရင် တရားဖြစ်ပါပြီ။ သတိတစ်လုံးမြဲနေပြီ ဆိုရင် ရှုမှတ်ရမယ့် တရားတွေ မြင်ပါပြီ။ သတိထားရင် သတိရှိရင် ယောဂီတို့တွေ့ရမယ့် တရားတွေကို တွေ့လာလိမ့်မယ်။ ထင်ရှားလာမယ်။ ပေါ်လွင်လာမယ်။

တရားကျင့်သူတွေကို ဘယ်သူတရားပြလဲဆိုရင် တရားကပဲ တရားပြတာပါ။ ဒီခန္ဓာထဲမှာ ရှိနေတဲ့ သဘောတရားတွေသည် တရားသဘောတွေပါ။ ကိုယ်မှာထင်ရှားရင် ရုပ်တရား၊ စိတ်မှာထင်ရှားရင် နာမ်တရားပါ။

အဲဒီနှစ်မျိုးကို ရှုမှတ်နေတာသည် ဓမ္မာနုပဿနာပါ။ သတိဦးစီးတယ်။ သတိခေါင်းဆောင်တယ်။ သတိကို ရှေ့တန်းတင်တယ်။ သတိကို ပဓာနထားတယ်။ သတိထားမှ တရားဖြစ်ပါတယ်။ သတိမထားရင် တရားမဖြစ်ဘူး။ သတိမပါဘဲ တရားကျင့်လို့ မရပါဘူး။

ထိုင်တော့ထိုင်နေတာပဲ သတိမပါဘူး။ အမှတ်တမဲ့ ဒီအတိုင်းပဲထိုင်ရဲ့ထိုင်နေတယ်ဆိုရင် တရား မဖြစ်ပါဘူး။ ဘာလို့ တရား မဖြစ်တာလဲ၊ သတိမရှိလို့ပါ။ တရားက ရှိနေတယ်။ သတိမထားလို့၊ သတိထားပြီး မကြည့်လို့ တရားမတွေ့တာပါ။ ကိုယ်မှာလှည့်ပြီးတော့ သတိထားကြည့်၊

စိတ်ထဲမှာ ပြန်ပြီး တော့ သတိထားကြည့်ပါ။ ဒီသတိလေးနဲ့ ကိုယ်နဲ့စိတ်ကို လှည့်ပတ်ကြည့်တဲ့အခါမှာ ပေါ်လွင်လာ ထင်ရှားလာတဲ့ သဘောတရားဟာ ကိုယ်ရှုရမယ့် အရှုခံ တရားပါ။

ဒီလောက်ဆိုရင် လိုရင်းအချုပ်ကိုသိလောက်ပါပြီ။ မနက်ဖြန်ခါနံနက် မနက်စောစောမှာ စပြီးတော့ တရားထိုင် ကြမယ်။ တရားကျင့်ကြံအားထုတ်ပါမယ်။

တရားထိုင်ကြတဲ့အခါမှာ ဘယ်လိုရှုရမလဲဆိုတော့ ဒီခန္ဓာကိုယ် သက်သောင့်သက်သာနဲ့ နေသာထိုင်သာရှိတဲ့ အနေအထားမျိုး၊ သက်သောင့်သက်သာဖြစ်မယ့် အနေ အထားမျိုး တင်ပျဉ်ခွေချင်ရင်ခွေ၊ ကျူကျူထိုင်ချင်ရင် ထိုင်ပါ။ ခါးကိုဖြောင့်ဖြောင့်ထား၊ ဦးခေါင်း ရှေ့တည့်တည့် ကြည့်၊ မျက်စိ အသာမှိတ်ထားပါ။ နှုတ်ခမ်းကို အသာစေ့ပြီးတော့ ဘယ်ဘက် လက်ကို အောက်ကထား၊ ညာဘက်လက်ကို အပေါ်က တင်၊ လက်မထိပ်လေးနှစ်ခု ထိထားလိုက်ပါ။

ပြီးရင် ခန္ဓာကိုယ်တစ်ခုလုံး ပြန်ကြည့်ပါ။ ဘယ်နေရာမှာ အဆင်မပြေတာရှိလဲ၊ မမျှတတာ အချိုးမကျတာရှိလဲ ပြန်ကြည့် ပါ။ အားလုံးစိတ်တိုင်းကျပြီ၊ ဒီပုံစံနဲ့ ဒီအနေအထားနဲ့ ထိုင်မယ် ဆိုလို့ရှိရင် ဒီတစ်နာရီ အေးအေးဆေးဆေး သက်သောင့်သက် သာနဲ့ ထိုင်နိုင်ပြီဆိုရင် အသက်ရှူတဲ့နေရာမှာ စပြီးတော့ ရှုမှတ် အားထုတ်ကြပါမယ်။



## * အသက်ရှူရာ တိုးတွန်းတာပူအေးတာကို ရှုရခြင်း *

အသက်ရှူတဲ့ဆီကနေ စတင်အားထုတ်မယ်ဆိုတော့ အသက်ရှူလိုက်တိုင်းကို သတိထားပါ။ အသက်ရှူတာ ဘာနဲ့ အသက်ရှူလဲဆိုရင် နှာခေါင်းနဲ့ အသက်ရှူတယ်လို့ ပြောရ ပါမယ်။

အသက်ရှူတဲ့အချိန်မှာ နှာသီးဖျား နှုတ်ခမ်းဖျားလေး ပေါ်မှာ သတိထားကြည့်လိုက်ပါ။ နှာသီးဖျားလေးမှာ သတိ ထားပြီးကြည့်ပါ။ လေရှူထုတ်တယ်၊ လေရှူသွင်းတယ်၊ ဒီနှာခေါင်းဖျားလေး နှုတ်ခမ်းဖျားလေး တွန်းတိုက်ပြီးတော့ လေဝင်သွားတယ်၊ ထွက်သွားတယ်၊ တိုးတွန်းပြီးတော့ ဝင်သွားတယ်၊ ပြန်ပြီးတော့ ထွက်လာတယ်၊ နှာသီးဖျားမှာ အေးသွားတယ်၊ ပူသွားတယ်လို့ သဘောတရားတွေ တွေ့ရ ပါလိမ့်မယ်။ ရှူသွင်းတဲ့အချိန် ရှူထုတ်တဲ့အခါ လေတိုးထိ သွားတဲ့နေရာ သတိထားကြည့်ပါ။

အသက်ရှူတဲ့ချိန်ခါမှာ တိုးတွန်းတဲ့ သဘောတရား၊ တိုးတဲ့သဘော တွန်းတဲ့သဘော ရှိနေတယ်၊ ဖြစ်နေတယ်၊ လေတိုးပြီးတော့ ဝင်လာတယ်၊ ပြန်တွန်းကန်ပြီးတော့ ထွက် သွားတယ်၊ နှာသီးဖျားမှာ ပူတဲ့ သဘောတရားတွေ ဖြစ်လာ တယ်၊ အေးတဲ့ သဘောတရားတွေ ဖြစ်လာမယ်။

အပြင်က လေရှူသွင်းတဲ့အခါမှာ အေးမယ်။ ကိုယ်တွင်းက လေကို ပြန်ရှူထုတ်လိုက်တဲ့အခါမှာ ပူချင်လည်း ပူလိမ့်မယ်။ နွေးချင်လည်း နွေးလိမ့်မယ်။ အဲဒီ တိုးတာ၊ တွန်းတာ၊ ပူတာ၊

အေးတာသည် ရုပ်တရားပါ။ ကိုယ်မှာ ဖြစ်တာဟာ ရုပ်တရား သဘောပါ။ စိတ်မှာဖြစ်တာ နာမ်တရားသဘောပါ။ နာသီးဖျား ဆိုတာသည် ကိုယ်လား စိတ်လားဆိုတော့ ကိုယ်အင်္ဂါ အစိတ်အပိုင်းတစ်ခုပါ။ ကိုယ်နဲ့ဆက်စပ် ဖြစ်လာတဲ့ သဘောတရားဟာ ရုပ်တရားပါ။

နာသီးဖျား နာခေါင်းဖျားမှာ လေရှူသွင်းလိုက်တဲ့အခါ ရှူထုတ်လိုက်တဲ့အခါမှာ ရှုမှတ်ရမယ့် သဘောတရားတွေ ပေါ်လာတယ်၊ တိုးတာ ရုပ်သဘောပါ။ ဒီကိုယ်နဲ့ဆက်စပ်ပြီး တော့ ဖြစ်တယ်၊ ကိုယ်မှာ ထင်ရှားတဲ့ တိုးတဲ့သဘော ဖြစ်လာတယ်။ ကိုယ်ဆိုတဲ့အထဲမှာ အကုန် အကျုံးဝင်သွားပါတယ်။ ဆံပင်ဖျားကနေ ခြေဖျားတိုင်အောင် အကုန်ပါဝင်သွားတယ်။ မျက်စိတွေ နာခေါင်းတွေ ပါးစပ်တွေ လက်တွေ ခြေတွေ ခေါင်းတွေ အားလုံးပါသွားတယ်၊

အဲဒီတော့ နာသီးဖျားမှာ တိုးသွားတယ်ဆိုရင် တိုးတဲ့ သဘောတရားသည် ရုပ်တရားပါ၊ ပူသွားတယ်ဆိုရင် အေးသွားတယ်ဆိုရင် နွေးသွားတယ်ဆိုရင်ရော ရုပ်တရား ပါပဲ၊ တခြား သဘောတရားတွေ လှုပ်သွားရွေ့သွားတယ်၊ ဖြစ်ချင်ရာ ဖြစ်မှာပဲ၊ အဲဒီသဘောတရားတွေသည် ရုပ်တရား တွေပါ၊

*** အသက်ရှူရာ တင်းတောင့်ခြာ လှုပ်ရွေ့ခြာတို့ ရှုရခြင်း ***

အသက်ရှူတဲ့ချိန်ခါမှာ တင်းမယ်၊ ပေါင့်မယ်၊ လှုပ်မယ်၊ ရွေ့မယ် ဒီသဘောတွေ ထင်ရှားတတ် ဖြစ်တတ် ပါသေးတယ်။ ဒါတွေဟာလည်း ရုပ်တရားတွေပါပဲ။



အသက်ရှူတဲ့ချိန်ခါမှာ နာသီးဖျားမှာ တင်းသလိုလို တောင့်သလိုလို တချို့ကလည်း တွေ့တယ်။ တစ်ယောက်နဲ့ တစ်ယောက်တော့ တူချင်မှတူပါမယ်။

တချို့ကျတော့လည်း ဒီလေလေး နာခေါင်းထဲကို ဝင်သွားတဲ့ချိန်မှာလည်း လှုပ်သလိုလို ရွေ့သလိုလိုလေး တွေ့ချင်လည်းတွေ့ပါမယ်၊ တစ်ဦးနဲ့တစ်ဦး တစ်ယောက်နဲ့ တစ်ယောက် ခံစားရပုံချင်း၊ သတိပြုမိကြပုံချင်း မတူကြ ပါဘူး။

ကိုယ်က ပူတာလေးကိုတွေ့မယ်ဆိုရင် ပူတာကိုရှုမှတ်၊ အေးတာတွေ့ရင် အေးတာကိုရှုမှတ်ပါ။ သူများက ပူတယ် ဆိုတိုင်း သူများနည်းတူ ကိုယ်လည်း ပူတယ်လို့ မလုပ်ပါနဲ့၊ သူများက လှုပ်တယ်ဆိုတိုင်း ကိုယ်လည်းလှုပ်တယ်မလုပ်ပါနဲ့၊ ကိုယ့်ဘာသာ သတိထားကြည့်ပါ။ ကိုယ့်အသိထဲမှာ ကိုယ် သတိထားကြည့်လိုက်တဲ့အခါမှာ ဘာပေါ်သလဲ၊ ဘယ်လို ဖြစ်သလဲဆိုတာ ကြည့်ရမှာပါ။

အဲဒီတော့ ဘာသဘောတရားတွေ ဖြစ်နိုင်သလဲ၊ တွေ့နိုင်သလဲ။ တိုးတာ တွန်းတာ ပူတာ အေးတာ လှုပ်တာ ရွေ့တာ တင်းတာ တောင့်တာတွေ ရှိနေတယ်၊ ဖြစ်နေတယ်၊ အဲဒီသဘောတရားတွေသည် ရုပ်တရားတွေပါ။ ဘယ်မှာ သတိထားရမှာလဲ၊ နာသီးဖျားမှာပါ၊

နာသီးဖျားမှာ သတိထားကြည့်တဲ့အခါ ပေါ်လာတဲ့ သဘောတရား၊ အသက်ရှူတိုင်း ရှူတိုင်းမှာ ပေါ်လာတွေ့လာတဲ့ သဘောတရားတွေကို သတိထားရှုမှတ်ပါ။

လူတိုင်းဟာ အချိန်တိုင်းမှာ အသက်ရှူနေ ကြတယ်၊ တစ်နေ့တစ်နေ့ အကြိမ်ပေါင်း မြောက်မြားစွာ အသက်ရှူကြတယ်၊ အသက်ရှူလိုက်တိုင်း ရှူလိုက်တိုင်းမှာ သတိထားကြည့်တတ်မယ်ဆိုရင် တရားဖြစ်နေပါတယ်။

အသက်ကတော့ ရှူနေတာပဲ၊ တရားအားထုတ်တဲ့အချိန်မှာလည်း ရှူနေတာပဲ၊ အားမထုတ်တဲ့အချိန်မှာလည်း ရှူနေတာပဲ၊ သတိထားတဲ့အချိန်မှာလည်း ရှူနေတာပဲ၊ သတိလွှတ်ထားတဲ့အချိန်မှာလည်း ရှူနေတာပါပဲ၊

ထမင်းစားနေရင်း သွားရင်းလာရင်း အိပ်နေရင်းလည်း အသက်မရှူတဲ့အချိန် မရှိပါဘူး။ အချိန်တိုင်း အချိန်တိုင်း အသက်ရှူနေတာပါ။ ဒါပေမဲ့ အသက်ရှူလိုက်တိုင်း ရှူလိုက်တိုင်းမှာ တရားမဖြစ်ပါဘူး၊ သတိထားနေမှ တရားဖြစ်ပါတယ်၊

အသက်ရှူနေရုံနဲ့ တရားမဖြစ်ပါဘူး၊ သတိထားပြီး ရှုမှတ်နေမှ တရားဖြစ်ပါတယ်၊ ဘုန်းကြီးတို့ တရားမရှုမှတ်ဘဲ အမှတ်တမဲ့ အလွှတ်နေတဲ့အခါမှာလည်း အသက်ရှူတယ်။ အခုအားထုတ်တဲ့အချိန်မှာလည်းအသက်ရှူတယ်၊ အသက်ရှူတာချင်း မတူဘူး၊ သတိကွာသွားပါတယ်၊ သတိပါတာနဲ့ မပါတာ၊ သတိထားပြီးတော့ ရှုမှတ်တာနဲ့ သတိမထားဘဲနဲ့ ရှုမှတ်တာ၊ အများကြီး ကွာခြားသွားပါတယ်၊

သတိမထားဘဲနဲ့ ဒီအတိုင်း ရှုမှတ်လိုက်တဲ့အခါမှာ ပူတာလည်း မသိဘူး။ အေးတာလည်း မသိဘူး၊ လှုပ်. ရွေ့. တိုး. တွန်းတာတွေရော ဘာတစ်ခုမျှ မသိပါဘူး၊ သတိထားမှ သိပါမယ်၊

တချို့ယောဂီတွေ လျှောက်တယ်။ အရှင်ဘုရား တပည့်တော် အသက်ရှူတာ ဘာမျှလည်း မသိဘူးတဲ့၊ သူ့ကို သတိထားပြီးရှုမှတ်ရဲ့လားလို့ မေးတော့ သတိလည်း မရှိဘူး။ သတိမရှိဘဲနဲ့ဆိုရင် ကိုယ့်ကိုယ်ကိုယ် အသက်ရှူလို့ အသက်ရှူနေမှန်းတောင် မသိပါဘူး၊ သတိထားပြီးတော့ကြည့်ရင် တစ်ခုခုတော့ သိမှာပါ။ အနည်းဆုံး လှုပ်သွားသလို ရွေ့သွားသလိုတော့ တစ်မျိုးလေးဖြစ်သွားတာတော့ သိလိုက်ပါတယ်၊ တစ်မျိုးလေး ဖြစ်သွားတာဟာ ရုပ်တရားပါ။ ဒါက အသက်ရှူတဲ့နေရာမှာ သတိထားကြည့်တာ၊ ကိုယ်ကို အခြေခံ အရှုခံထားပြီး ရုပ်ကိုရှုမှတ်တာပါ၊

စိတ်မှာထင်ရှားတဲ့ သဘောတရားကတော့ နာမ်တရားပါ၊ နှာသီးဖျားမှာ သတိကပ်ပြီး အသက်ရှူလိုက်လို့ တိုးတယ်လို့ ဖြစ်သွားတဲ့အချိန်မှာ "သြော် တိုးသွားပါလား" လို့ သိလိုက်တဲ့အသိ၊ တိုးမှန်းသိတဲ့ အသိသည် နာမ်တရားပါ။ တိုးမှန်းသိတာ နာမ်တရားပါ၊ တွန်းကန်ပြီး ထွက်သွားချိန်လေးမှာ တွန်းကန်မှန်း သိလိုက်တယ်၊ ပူတယ်လို့ သိတယ်၊ အေးတယ်လို့ သိတယ် ဆိုတာတွေသည် နာမ်တရားတွေပါ၊

ပူတာက ရုပ်၊ ပူမှန်းသိတာက နာမ်ပါ၊

အေးတာက ရုပ်၊ အေးမှန်းသိတာက နာမ်ပါ၊

ရှူသွင်းတာတော့ဖြင့်လည်း ဒီလေကို ရှူသွင်းလိုက်

တာပဲ။ ပုံမှန် အသက်ရှူလိုက်တာပါပဲ၊ သတိကလည်းပဲ ဒီနာသီးဖျားနားမှာ ထားထားတာပါပဲ။ ဒါပေမဲ့လို့ ပူတယ်လို့ ဒီသဘောတရားကို သတိထားမိရင် ရုပ်လို့ ရှုမှတ်ရပါမယ်။

ပူတာက ရုပ်၊ ပူတယ်လို့ သိတာက နာမ်ပါ။

ပူတာကို သတိပြုမိတယ်ဆိုရင် ရုပ်ကိုတွေ့တာပါ၊ သတိထားတဲ့အခါ ပူတယ်ဆိုရင် ရုပ်၊ ပူတာပါလားလို့ သိလိုက်တယ်ဆိုရင် နာမ်ပါ။

တိုးတယ်ဆိုရင် ရုပ်၊ တိုးမှန်းသိတာက နာမ်ပါ။

လှုပ်တယ်ဆိုရင် ရုပ်၊ လှုပ်မှန်းသိတယ်ဆိုရင် နာမ်ပါ။

နှာသီးဖျားမှာ တစ်ခုခုဖြစ်လာတယ်၊ ဖြစ်လာတဲ့ သဘောတရားဟာ ရုပ်တရားပါ။ ကိုယ်နဲ့ ပတ်သက်ပြီးတော့ ဖြစ်လာရင် ကိုယ်မှာထင်ရှားရင် ရုပ်၊ စိတ်မှာထင်ရှားရင် နာမ်လို့ ရှုမှတ်ရပါမယ်။

ဒီလောက်ဆိုရင်တော့ ယောဂီတို့ ရုပ်နာမ်သဘော ကြေညက်လောက်ပါပြီ။ အသက်ရှူတဲ့ နေရာမှာ အသက်ရှူတဲ့အခါမှာ ကြည့်တတ်ပါပြီ၊ သတိကပ် သတိထားပါ၊ နှာသီးဖျားမှာပူမယ် အေးမယ် တုန်မယ် လှုပ်မယ် ရွေ့မယ်ဆိုရင် ရုပ်ပါ။ ပူမှန်းသိ အေး. လှုပ်. ကန်မှန်းသိရင် နာမ်ပါ။

နှာသီးဖျားမှာ ရှုမှတ်လို့မရရင် ဘယ်နေရာမှာ ရှုမှတ်မလဲပေါ့။ ဒီခန္ဓာကိုယ်တစ်ခုလုံး ရှုမှတ်စရာတွေ ချည်းပါပဲ။ ရှုမှတ်မယ်ဆိုလို့ရှိရင် အရှခံ နှာသီးဖျား နှာခေါင်းဖျားမှာ ရှုမှတ်လို့မရရင် ရင်မှာသတိထားကြည့်ပါ၊ တဒိတ်ဒိတ်နဲ့ တစ်ချိန်လုံး ခုန်နေတယ်၊ တုန်နေတယ်။ လှုပ်နေပါတယ်။



### * ရင်မှာတိုးတာ လှုပ်ရွေ့တာ တုန်တာ ခုန်တာ ရှုရမည် *

ရင်မှာ သတိကပ်ထားကြည့်လိုက်တဲ့အခါမှာ တဒိတ်ဒိတ်နဲ့ တုန်နေမယ်၊ ခုန်နေမယ်၊ လှုပ်နေမယ်၊ ရွေ့နေမယ်၊ တိုးတုန်ခုန်လှုပ်နေတဲ့ သဘောတရားကို ရှုမှတ်မယ်ဆိုရင် ရုပ်လို့ ရှုမှတ်ရပါမယ်။

ရင်ဘတ်ကြီးဆိုတဲ့ ပုံသဏ္ဌာန်မပါစေနဲ့။ ရင်ဘတ် ဆိုတဲ့ အသားစု သားစိုင်တွေ မပါစေနဲ့၊ တုန် ခုန် လှုပ် ရွေ့တဲ့ သဘော တရားလေးပဲ ရှုမှတ်ရပါမယ်။ အသက်ရှူသွင်း လိုက်တဲ့ အချိန်ခါမှာ တဒိတ်ဒိတ်နဲ့ တုန်မယ် ခုန်မယ် လှုပ်နေ မယ်၊ ဘာတရားလဲဆိုရင် ရုပ်တရားပါ။ တုန်တယ်လို့သိတယ်၊ ခုန်တယ်လို့သိတယ်၊ လှုပ်တာ ရွေ့တာတွေကိုသိတယ်၊ အဲဒါ နာမ်တရားပါ။

အဲဒီမှာလည်းပဲ ရုပ်. နာမ်ပါပဲ၊ လိုရင်းက တရားအား ထုတ်တယ်ဆိုတာ ရုပ်နဲ့နာမ်ကို ရှုမှတ်တာပါ၊ ဝိပဿနာ ရဲ့အာရုံသည် ရုပ်နှင့်နာမ်ပါ။ ဒါကြောင့် ရုပ်. နာမ်ကို အာရုံပြု နေတဲ့ အချိန်ဟာ ဝိပဿနာဖြစ်နေတဲ့ အချိန်ပါ။

အမှန်ပြောရရင် ဝိပဿနာဆိုတာ မခက်ပါဘူး၊ ရုပ်ဖြစ်စေ နာမ်ဖြစ်စေ တစ်ခုခုကို အာရုံပြုပါ။ ရုပ်တရား အာရုံ ပြုမယ် နာမ်တရားကို အာရုံပြုမယ်ဆိုရင် ဝိပဿနာ ဖြစ်ပါပြီ၊

ရုပ်တရား နာမ်တရား မဟုတ်ဘဲနဲ့ တခြားအာရုံတွေ ရောက်သွားပြီး တခြားတခြား ပြင်ပအာရုံတွေကို အာရုံပြုမယ်၊ ကျောင်းရောက်မယ်။ အိမ်ရောက် ဈေးရောက် မြို့. ပြော ရောက်

မယ်၊ ဟိုလူ့ ဒီလူ သတိရမယ်၊ အဲဒီအခါကျလို့ ရှိရင် ရုပ်.နာမ် အပေါ်မှာ အာရုံမရောက်တော့တဲ့အတွက် ဝိပဿနာ မဖြစ်တော့ပါဘူး။ ဝိပဿနာဖြစ်ချင်ရင် ရုပ်.နာမ်အာရုံမကင်းရပါဘူး၊

ဝိပဿနာ ကျင့်ကြံပွားများ အားထုတ်နေသူဟာ ရုပ်.နာမ် နယ်ထဲကနေ ကင်းကွာသွားလို့မရဘူး၊ ရုပ်.နာမ် နယ်ထဲကနေ ထွက်လို့မရပါဘူး။ ရုပ်၊ဒါမှမဟုတ်လို့ရှိရင် နာမ် တစ်ခုခုကို အာရုံပြုရပါမယ်။ ဒီတော့ နှာသီးဖျားမှာ ရှုမှတ်လို့ရသလိုပဲ ရင်မှာတဒိတ်ဒိတ်နဲ့ တုန်ခုန်လှုပ်ရှားနေတဲ့ သဘောတရားတွေကို ရှုမှတ်မယ်ဆိုရင် တဒိတ်ဒိတ်နဲ့ တုန်တိုင်းခုန်တိုင်း လှုပ်တိုင်း ရှားတိုင်းမှာ ဘာတရား ပေါ်မလဲ။ ရုပ်တရားပေါ်မယ်၊ သိလိုက်တယ်ဆိုရင် နာမ်တရား ပေါ်မယ်၊

ကိုယ်နဲ့ဆက်စပ်ရင် ရုပ်၊ စိတ်နဲ့ဆက်စပ်ရင် နာမ်ပါ၊ စိတ်နဲ့ဆက်စပ်တယ်ဆိုတာ သိတာပါ၊ အဓိကအားဖြင့် နာမ်တရားရဲ့အလုပ်က သိတဲ့အလုပ်ကို လုပ်ပါတယ်၊

ဘာလေးပဲဖြစ်ဖြစ် လိုက်သိနေတယ်၊ လိုက်ပြီးတော့ သိနေတယ်၊ အဲဒီ သိနေတာသည် နာမ်၊ ဟောဒီ ခန္ဓာကိုယ်ဆိုတဲ့ ဒီကိုယ်ကောင်ကြီးသည် ရုပ်ပါ၊ ဒီလိုဆိုတော့ ရင်မှာလည်းပဲ ရှုမှတ်တတ်ပြီ၊ နှာသီးဖျားမှာလည်းပဲ ရှုမှတ်လို့ရပါပြီ၊ ကိုယ်မှာပေါ်ရင်လည်းပဲ ရှုမှတ်တတ်ပြီ။ စိတ်ထဲပေါ်ရင် လည်းပဲ ရှုမှတ်တတ်ပြီ။ ဒါ ထိုင်တဲ့အခါမှာ ရှုမှတ်ပုံ ရှုမှတ်နည်းပါပဲ၊

ထိုင်နေရင်းနဲ့ ဒီနေရာပဲရှုမယ်၊ ဟိုနေရာပဲရှုမယ်၊ ဘယ်နေရာမှ ရှုမှတ်မယ်လို့ နေရာသတ်မှတ်ချက် မထားပါနဲ့၊



ဘယ်နေရာ ထင်ရှားလဲ၊ ဘယ်နေရာ ရှုမှတ်လို့ကောင်းလဲ၊ ကိုယ့်ရဲ့အာရုံက နှာသီးဖျားမှာ ရချင်ရမယ်။ ရင်မှာ တုန်တာခုန်တာလည်း ဖြစ်ချင်ဖြစ်မယ်၊ ကိုယ်ပေါ်တစ်နေရာရာမှာလည်းပဲ ဖြစ်ကောင်းဖြစ်လိမ့်မယ်၊ ဒါမှမဟုတ်လို့ ရှိရင် စိတ်ကနေပြီးတော့ သိနေတာ၊ စိတ်ကနေ စဉ်းစားနေတာ တွေးနေတာ ကြံစည်နေတာတွေ ရှုမှတ်လို့ ရပါတယ်။

စဉ်းစားနေတာ ဘာတရားလဲဆိုရင် နာမ်တရားပါ၊ အရှုခံတစ်ခုခု ရှုမှတ်နေရင်းနဲ့ စဉ်းစားမိတယ်၊ အဲဒီအခါမှာ ပြန်သတိကပ် သတိထား စဉ်းစားနေတာသည် နာမ်တရား၊ စိတ်ကူးနေတာ တွေးနေတာ ပျံ့လွင့်နေတာတွေ နာမ်တရားပါ။

စိတ်နဲ့ပတ်သက်လာရင် နာမ်တရား၊

ကိုယ်နဲ့ပတ်သက်လာရင် ရုပ်တရားလို့ ရှုမှတ်နေရင်း တစ်ထိုင် အချိန်ပြည့်ပြီပေါ့။ တစ်နာရီ ဘုန်းကြီးတို့ပရိသတ် တစ်ထိုင်အချိန်ပြည့်တဲ့အခါ ထိုင်ချိန် ပြည့်ပါပြီဆိုရင် ထိုင်တရားချိန် ခဏဖြုတ်နိုင်ပါတယ်၊

ဆက်ပြီးတော့ မထိုင်နိုင်၊ ထိုင်လျက် အားမထုတ်နိုင်တော့တဲ့ ယောဂီများက တရားဖြုတ်မယ်၊ ဣရိယာပုတ်ပြောင်းရပါမယ်၊ ဆက်ပြီးတော့ ရှုမှတ်လို့ဖြစ်သေးတယ်၊ ရှုချင်သေးတယ်၊ မှတ်ချင် သေးတယ် ဆိုရင်လည်း ဆက်ပြီးတော့ ရှုမှတ်လို့ရပါတယ်။

တရားဖြုတ်လိုက်တဲ့ယောဂီက ထိုင်တဲ့ဣရိယာပုတ်၊ ထိုင်တဲ့အနေအထားနဲ့ ဒီလောက်အတိုင်းအတာပဲ ရှုမှတ်

နိုင်တယ်။ ဒါထက်ပိုပြီးတော့ ဆက်ပြီးတော့ အားမထုတ်နိုင်တဲ့အတွက် ထိုင်တဲ့အနေအထားကနေ ခဏနားရမယ်။ တစ်နာရီပြီးလို့ရှိရင် တရားစခန်းမှာ သတ်မှတ်ထားတဲ့ အချိန်ဇယားအရ ထိုင်ချိန် တစ်နာရီပြည့်ပြီဆိုရင် နောက်နာရီဝက်က လမ်းလျှောက် စင်္ကြံသွား ရှုမှတ်ရမယ့် စင်္ကြံချိန်ပါ။

အနည်းဆုံး ထိုင်နေတဲ့နေရာကနေပြီးတော့ ကိုယ်သွားချင်တဲ့နေရာရောက်အောင် လျှောက်လှမ်းပြီးတော့ သွားတာဟာလည်း စင်္ကြံသွားတာပါ။ စင်္ကြံသွားချိန်ခါမှာ ရှုမှတ်ပုံ ရှုမှတ်နည်းကို မှတ်ထားကြရပါမယ်။

* ကြွလှမ်းနိုတ်မှာ၊ ချနိုတ်မှာ ပေါ်ရာရုပ်လို့ ရှုရမည်။ *

ထိုင်ရာကနေ တစ်နေရာရာကိုသွားမယ်ဆိုတဲ့ အချိန်အခါမှာ ခြေထောက်ကို ကြွတယ်။ ခြေစုံရပ်ပြီးတော့ တစ်နေရာကို လှမ်းတော့မယ်ဆိုရင် အရင်ဦးဆုံး ခြေထောက်ကို ကြွတယ်၊ ကြွလိုက်ပြီးတော့ ရှေ့ကို လှမ်းပါတယ်။ ဝပြီးကြွတယ်ဆိုရုံနဲ့ ဒီနေရာက မရွေ့သေး ပါဘူး။ ပြန်ချလိုက်၊ ဒီနေရာပဲရောက်မယ်။ ရှေ့တိုးချင်တယ်၊ သွားချင်တယ်ဆိုလို့ရှိရင် ဘာလုပ်ရမလဲ။ လှမ်းရတယ်။ ကြွတယ်၊ လှမ်းတယ်၊ လှမ်းပြီးရင် ဒီခြေထောက်အောက်ကို ချတယ်။

ခြေလှမ်းတစ်လှမ်းမှာ ကြွတာရယ်၊ လှမ်းတာရယ်၊ ချတာရယ်၊ သုံးချက်တွေ့ရပါမယ်။ ကြွလိုက်တဲ့ အခိုက်အတန့်လေးမှာ ဘာဖြစ်နေလဲ၊ ဘယ်လိုသဘောတရားတွေပေါ်လဲ ဆိုတာ ကြည့်ရပါမယ်။

ကြွနေတဲ့ အခိုက်အတန့် ခြေထောက်အောက်ပိုင်းမှာ ဘယ်လိုသဘောတရားတွေ ပေါ်နေတယ်၊ ဖြစ်နေတယ်လို့ ကြည့်လိုက်ပါ။ ကြွနေတော့ ဘုန်းကြီးတို့ ဒီခြေထောက်ကြီး ကြွသွားအောင်၊ မြင့်သွားအောင်၊ အနည်းဆုံး လေးလက်မ၊ ခြောက်လက်မလောက် မြင့်သွားအောင် မြှောက်တင်ရတော့ လေးပါတယ်။ လေးတဲ့သဘောတရားသည် ရုပ်သဘောတရားပါ။

ကြွတင်လိုက်တဲ့ချိန်ခါမှာ တံကောက်ကွေး ကွေးသွားတယ်။ အဲဒီတော့ ဒူးဆစ်ရဲ့အနောက်ဘက် တံကောက်ကွေးမှာ ရှိနေတဲ့ အကြောတွေက ခေါက်သွားတယ်။ အပြင်ဘက်က အကြောတွေက တင်းသွားပါတယ်။ အဲဒီခဏလေးမှာ ဖြစ်လာတဲ့ သဘောတရားကိုကြည့်ပါ။ တင်းသွားတဲ့သဘော၊ လျော့သွားတဲ့သဘောတွေ တွေ့ရလိမ့်မယ်။ တင်းတဲ့နေရာက တင်း၊ လျော့တဲ့နေရာကလျော့။ အဲဒီ တင်းတယ်၊ လျော့တယ် ဆိုတဲ့သဘောတရားသည် ရုပ်တရားပါ။

လှမ်းလိုက်တဲ့အချိန်မှာ ခြေထောက်က ဆန့်သွားတယ်။ အဲဒီချိန်ခါမှာလည်းပဲ အသားစု အသားစိုင်တွေ ဒီနေရာကနေပြီးတော့ ရှေ့တိုးသွားတယ်ဆိုတော့ တွန်းပို့လိုက်တဲ့သဘော၊ တွန်းကန်လိုက်ရတဲ့ သဘော၊ လှုပ်သွား ရွေ့သွားတဲ့သဘောတွေ ပေါ်လာပါတယ်။ တွန်းတာသည် ဘာသဘောလဲဆိုရင် ရုပ်သဘောပါ။ လှုပ်တာ၊ ရွေ့တာ အနည်းဆုံး တစ်မျိုးတစ်မည်လေးတော့ ဖြစ်မှာပါ။ တစ်ခုခုတော့ပေါ်မှာပဲ။ ပေါ်လာတဲ့သဘောတရား အာရုံပြု၊ ရုပ်တရားလို့ ရှုမှတ်ပါ။

တစ်ခု သတိထားရမှာက ဒီဒူးခေါင်းဆိုတဲ့ ပုံပန်းသဏ္ဌာန်ကြီးလည်း မပါစေနဲ့။ ခြေသလုံး.ခြေဖဝါး.ခြေချောင်းဆိုတဲ့ အမှတ်သညာတွေလည်း မထားနဲ့။ ဘာကိုကြည့်နေရမှာလဲဆိုရင် သဘောတရားလေးကိုကြည့်နေလိုက်ပါ။ ကြွခိုက်မှာပေါ်တဲ့ သဘောတရား၊ လှမ်းနေတဲ့အခိုက်မှာ ပေါ်တဲ့ သဘောတရား၊ ချလိုက်တဲ့အခိုက်မှာ ပေါ်တဲ့ သဘောတရားတွေသည် ရုပ်တရားတွေပါ။

## * ကြွလှမ်းချတိုင်းမှာ ချစ်ကိုးမှာသိရာ နာမ်လို့ ရှုရမည် *

ကြွနေတဲ့အခိုက်အတန့်မှာ ဖြစ်ပေါ်နေတဲ့ သဘောတရားတွေကို သိရမယ်။ လှမ်းရင်လှမ်းတယ်၊ လှုပ်ရင်လှုပ်တယ်၊ ရွေ့ရင်ရွေ့တယ်၊ လေးရင်လေးတယ်၊ ပေါ့ရင်ပေါ့တယ်လို့ သိတာသည် နာမ်တရားပါ။

လှမ်းနေတဲ့ အချိန်အခါမှာ တရွေ့ရွေ့နဲ့ ရှေ့ကိုတွန်းနေတယ်၊ ရွေ့နေတယ်လို့ သိနေမယ်။ သိနေတာသည် နာမ်တရားပါ။ ချလိုက်တဲ့ချိန်ခါမှာလည်း ခန္ဓာကိုယ် အောက်ပိုင်းမှာ ဆန့်သွားမယ်၊ အလေးချိန်တွေ လွှတ်ချ လိုက်တယ်။ လွှတ်သွားတဲ့သဘော ပေါ်လာတယ်၊ တောင့်တင်း ထားရာကနေ လွှတ်ချလိုက်တော့၊ လျှော့ချလိုက်တော့ ပေါ့သွားတဲ့သဘော လျော့သွားတဲ့သဘော ပေါ်လာ တယ်၊ ဒီသဘောတရားတွေသည် ရုပ်တရားတွေပါ။ သိနေတာက နာမ်တရားပါ၊ ကြွတဲ့အခိုက်၊ လှမ်းတဲ့အခိုက်၊ ချတဲ့အခိုက်မှာ ဖြစ်နေတာသည် ရုပ်တရား၊ ဖြစ်နေတာ တွေကို သိနေတာသည် နာမ်တရားပါ။



စင်္ကြံသွားတဲ့အခါမှာ ဒီအတိုင်းရှုမှတ်ပါ။ ခြေလှမ်းတစ်လှမ်း လှမ်းလိုက်ပြီး အမှတ်မဲ့ ဒီအတိုင်း မလှမ်းပါနဲ့၊ သတိနဲ့လှမ်းပါ။ ကြွတဲ့အချိန်၊ လှမ်းတဲ့အချိန်၊ ချတဲ့အချိန် အမှတ်သညာလေးနဲ့ ရှုမှတ်ပါ။

ခြေတစ်လှမ်းမှာ အဆင်ပြေသလို ရှုမှတ်ပြီး သွားလိုရာကို သွားပါ။ နောက်တစ်ခါ တစ်လှမ်းသွားပြန်ရင် လှမ်းကြွမယ် ချမယ် လှမ်းမယ်။ ကြွခိုက် လှမ်းခိုက်မှာ ဖြစ်ပေါ်နေတဲ့သဘောတရားတွေကိုအဆက်မပြတ်ရှုမှတ်သွားပါ။ ဒီအတိုင်းသာ ရှုမှတ်သွားမယ်ဆိုရင် စင်္ကြံလျှောက် နေတဲ့အချိန်ခါမှာလည်း ဝိပဿနာတရားတွေ ဖြစ်နေပါတယ်။

ထိုင်ပြီးနေတာမှ တရားကျင့်တာ မဟုတ်ပါဘူး။ သွားလာနေရင်းလည်း တရားကျင့်ရင်လည်း ရပါတယ်။ တချို့က "တရားထိုင်တယ်၊ တရားထိုင်တယ်" ဆိုတော့ ထိုင်နေတုန်းပဲ ကျင့်ကြံရှုမှတ်ရတယ်လို့ ထင်တတ်ကြပါတယ်။ ရပ်နေတဲ့အချိန်တို့၊ လျောင်းနေတဲ့အချိန်တို့၊ စင်္ကြံသွားနေတဲ့အချိန်တို့မှာ မရှုမှတ်တော့ပါဘူး။ ဒီလိုမဟုတ်ပါဘူး။ ထိုင်နေတုန်းလည်း ရှုမှတ်ရမယ်၊ စင်္ကြံသွားတဲ့အခိုက်မှာလည်း ရှုမှတ်ရပါမယ်၊ စင်္ကြံလျှောက်တဲ့အခါမှာ ကျင့်ပုံကျင့်နည်း ရှုမှတ်ပုံ ရှုမှတ်နည်း သိသွားပါပြီ။

## * သွား၊ ရပ်၊ ထိုင်၊ လျောင်း အစဉ်ပြောင်း သတိတောင်းစွာ ရှိရမည် *

ဣရိယာပုတ်လေးပါး လျောင်းထိုင်ရပ်သွား အနေအထား လေးမျိုးရှိပါတယ်။ သွားတာရယ်၊ ရပ်တာရယ်၊ ထိုင်တာရယ်၊ လျောင်းတာရယ်။ ဘယ်သူမဆို သွားတဲ့ အချိန်မှာ သွားမယ်၊ ရပ်တဲ့အချိန်မှာ ရပ်မယ်၊ ထိုင်တဲ့ အချိန်မှာ ထိုင်မယ်၊ လျောင်းတဲ့အချိန်မှာလျောင်းမယ်။ တစ်နေ့တစ်နေ့ ဒီအမူအရာ ဒီဣရိယာပုတ် လေးမျိုးနဲ့ပဲ နေကြပါတယ်၊ နေပုံနေနည်း ခန္ဓာကိုယ်အနေအထား လေးမျိုးပဲ ရှိပါတယ်။

တစ်နေရာကနေ တစ်နေရာ သွားနေတယ်။ ဒါမှမဟုတ်ရင် မတ်မတ်ရပ်နေတယ်၊ ဒါမှမဟုတ်ရင် ထိုင်နေမယ်၊ ဒါမှမဟုတ်ရင် လဲလျောင်းနေမယ်၊ တစ်သက်လုံးမှာ ဣရိယာပုတ်လေးပါးနဲ့ အသက်ရှင် နေကြပါတယ်။ ဘယ်သူ မဆို ဣရိယာပုတ် တစ်ခုတည်း တစ်မျိုးတည်းနဲ့ မနေနိုင်ကြပါဘူး။ နေလို့လည်း မရပါဘူး၊ တစ်နေ့လုံးလုံး ၂၄ နာရီလုံးလုံး ထိုင်ပြီးတော့ပဲ နေနိုင်ရင် ထိုင်တဲ့ဣရိယာပုတ်နဲ့ပဲ ရှုမှတ်နိုင်ပါတယ်၊ တစ်နေ့လုံး တစ်ညလုံး ထိုင်ပြီးတော့ မနေနိုင်တဲ့အတွက်ကြောင့် တစ်နေရာကနေ တစ်နေရာကို သွားရဦးမယ်၊ သွားတဲ့အချိန်မှာ စင်္ကြံသွားတဲ့အချိန်အခါမှာ ရှုမှတ်ဖို့ လိုပါတယ်၊ သွားတဲ့ချိန်ခါမှာလည်း ရှုမှတ်နေရပါမယ်။

ဒီလိုချည်းပဲ ထိုင်လိုက် သွားလိုက်နဲ့ချည်းပဲ မနေနိုင် ဘူး။ ရပ်တဲ့အခါမှာလည်း ရပ်ရဦးမယ်၊ ရပ်တဲ့အချိန်လည်း အလွတ်မနေပါနဲ့၊ ရပ်တဲ့အချိန်အခါမှာလည်း ရှုမှတ်နေရမယ်။ ခြေစုံမတ်မတ်ရပ်ပြီးတော့ ခြေဖဝါးနဲ့ ကြမ်းပြင်တွေနဲ့ ထိနေမယ်။ ဒါမှမဟုတ်လို့ရှိရင် ဒီမှာခင်းထားတဲ့ အခင်း တွေနဲ့ ခြေထောက်နဲ့ ထိနေပါမယ်။ ထိနေတာသည် ရုပ်၊ ထိမှန်း သိတာသည် နာမ်ပါ၊

ထိလိုက်တော့ ကြမ်းလိုက်တာ၊ ကြမ်းကြမ်းတမ်းတမ်း ကြီး နင်းမိ ထိမိတဲ့အချိန်ခါမှာ ကြမ်းတဲ့ သဘောတရား ပေါ်လာမယ်။ ကြမ်းတာသည် ရုပ်၊ ကြမ်းမှန်းသိတာသည် နာမ်တရားပါ၊ အောက်က အခင်းလေးက နူးနူးညံ့ညံ့လေး၊ သိမ်သိမ်မွေ့မွေ့လေး၊ ပျော့ပျော့ပျောင်းပျောင်းလေး ခင်းထားတယ်။ နင်းလိုက်တဲ့ချိန်ခါမှာ နူးညံ့ပျော့ပျောင်းတာ တွေ့မယ်၊ နူးညံ့ပျော့ပျောင်းနေတာသည် ရုပ်တရားပါ၊ နူးညံ့နေပါလားလို့ သိနေတာသည် နာမ်တရားပါ၊ ရပ်နေတုန်းမှာ ဒီခန္ဓာကိုယ် အလေးချိန်က ဒီခြေထောက်ပေါ်မှာပဲ မှီနိတည်နေရပါတယ်၊ တစ်ကိုယ်လုံးရဲ့အလေးချိန်သည် ခြေထောက်မှာ စုနေပါတယ်၊

အပေါ်ကနေပြီးတော့ ဖိထားတော့ လေးတဲ့သဘော ပေါ်တယ်။ လေးတဲ့သဘောသည် ရုပ်၊ လေးမှန်းသိတာသည် နာမ်ပါ၊ မတ်မတ်ရပ်နေတဲ့ချိန်ခါ ခန္ဓာကိုယ် ရှေ့နောက် တောင် မြောက် ယိမ်းယိုင်ပြီးတော့ မသွားအောင် ထိန်းထားရတာရှိတယ်၊ ဝါးလုံးတစ်လုံးတည်း ထောင်ထားလို့မရဘူး၊ ဘေးကနေပြီးတော့ ဆိုင်းထား ထိန်းထားရတယ်၊

အဲဒီလိုပဲ ခြေထောက်နစ်ချောင်းနဲ့ ရပ်နေတယ် ဆိုပေမဲ့ အကြောတွေက အလုပ်လုပ်နေရတယ်။ ဒီအကြောတွေက ထိန်းနေရတယ်။ ထိန်းရတဲ့ သဘောတရားတွေကို သိနေတယ်။ သတိထားကြည့်လိုက်လို့ ဒီခန္ဓာကိုယ်မှာ ထိန်းထားတဲ့သဘော တင်းတောင့်နေတဲ့သဘော တွေ့ရတယ်။

တချို့အကြောတွေက တင်းနေမယ်။ တချို့အကြောတွေက လျော့နေမယ်။ ယိုင်လဲမသွားအောင်၊ ပြိုလဲမသွားအောင် ကျားကန်ပေးထားတဲ့သဘော ရှိနေတယ်။ အဲဒီသဘောတရားတွေသည် ရုပ်တရား၊ သိနေတာက နာမ်တရားပါ။ ဒါက ရပ်နေတဲ့အချိန်ခါမှာ သတိထားပြီးတော့ ရှုမှတ်ပုံ ရှုမှတ်နည်းပါ။

သွား၊ ရပ်၊ ထိုင်၊ လျောင်းဆိုတော့ နောက် လျောင်းတဲ့ အချိန်လည်းရှိပါတယ်။ ဘယ်အချိန် လျောင်းလဲ၊ အိပ်တဲ့အချိန်၊ တရားဖြတ်ပြီးတော့ အိပ်ချိန် ရောက်တဲ့အခါမှာ ကိုယ့်အိပ်ရာထဲ ကိုယ်ဝင်၊ ပက်လက် ကလေး တစောင်းကလေး အိပ်ရာထဲမှာ လဲလျောင်းပြီးတော့ နေတယ်။ အဲဒီချိန်ခါမှာ ခေါင်းအုံးနဲ့ ခေါင်းနဲ့ ထိမယ်၊ ထိတာက ရုပ်၊ သိနေတာကနာမ်ပါ၊ ခေါင်းအုံးနဲ့ ခေါင်းနဲ့ ထိနေတဲ့နေရာမှာ တဒိတ်ဒိတ်နဲ့ တုန်နေ ခုန်နေ လှုပ်နေပါမယ်၊ တဒိတ်ဒိတ်နဲ့ တုန်၊ ခုန်၊ လှုပ်နေတာက ရုပ်ပါ၊ သိနေတာက နာမ်ပါ။

အဲလိုမှမဟုတ်ရင်လည်း လဲလျောင်းနေတဲ့ ချိန်လေးမှာ ပက်လက်လေး လှန်ပြီးတော့ အသက်ရှူတာကို ပြန်အာရုံပြုလို့ရပါတယ်။ နှာသီးဖျားမှာ သတိကပ်ကာ အသက်ရှူတိုင်း



ပေါ်လာတဲ့ တုန်၊ ခုန်၊ လှုပ်ရှားတဲ့ သဘောတရားသည် ရုပ်ပါ။ တွန်းကန်လှုပ်ရှားနေတဲ့သဘော သည် ရုပ်ပါ။ သိနေတာက နာမ်ပါ။

သွား၊ ရပ်၊ ထိုင်၊ လျောင်း ဣရိယာပုတ် လေးပါး၊ ကိုယ်အနေအထားတွေ ပြောင်းပြင်ပေမဲ့လို့ ရုပ်၊ နာမ်အာရုံ ပြောင်းမသွားရဘူး။ ရုပ်အာရုံ၊ ဒါမှမဟုတ် နာမ်အာရုံ ရှိနေရပါမယ်။

*** ပြု၊ ပြော၊ ကြံရာ ချိန်တိုင်းမှာပေါ်ရာ ထင်ရာ ရှုရသည် ***

ကာယကံအမှု ကိုယ်နဲ့ ပြုမယ်။ ဝစီကံ နှုတ်ကပြောမယ်။ မနောကံ စိတ်ကကြံလိမ့်မယ်။ ကာယကံ၊ ဝစီကံ၊ မနော ကံ ပြုပြောကြံတဲ့ အချိန်တိုင်းမှာ ရုပ်၊ နာမ် အာရုံ ရှုသွား နေရပါမယ်။

ကိုယ်နဲ့ပြုတယ်ဆိုရာမှာ ခန္ဓာကိုယ်နဲ့ ကိုယ်အင်္ဂါ အစိတ်အပိုင်း လက်နဲ့ကိုင်တယ်။ အရာဝတ္ထု တစ်ခုခုကို ကိုင်ပါတယ်။ ရေချိုးမယ်ဆိုရင် ရေခွက်ကို ကိုင်တယ်။ ထမင်း စားတဲ့အခါမှာ ထမင်းလုတ်ကို ဆုပ်တယ်။ ဇွန်းကိုကိုင်တယ်၊ ကိုင်နေတာ၊ ယူနေတာ၊ လှုပ်ရှားနေတာ၊ ကိုယ်နဲ့ ထိနေတာ သည် ကာယကံပါ။

နှုတ်ကနေပြီးတော့ စကားတွေ ပြောဆိုနေမယ်၊ ရွတ်ဖတ်နေမယ်၊ ကျက်မှတ်နေမယ်၊ ဒါက နှုတ်ကပြောတဲ့ ဝစီကံပါ။ စိတ်က ကောင်းတာ မကောင်းတာ တွေးနေ၊ ကြံနေတာက မနောကံပါ။

ကာယကံ၊ ဝစီကံ၊ မနောကံ ကံသုံးပါးလုံးကို ဘယ်အခါမျှ လွှတ်မထားရပါဘူး။

ကာယကံကိုပြုနေတဲ့ အခါမှာလည်းပဲ ထင်ရှားတဲ့ ရုပ်၊ နာမ်ကို ကြည့်ဖို့ လိုပါတယ်။ ကာယကံကို ပြုနေတဲ့အချိန်ခါမှာ ရုပ်တရား ဘယ်နေရာက ထင်ရှားလဲ။ နာမ်တရားက ဘာထင်ရှားလဲ ကြည့်ရမယ်၊ ရှုမှတ်ရမယ်။ ဝစီကံ နှုတ်က ပြောဆိုနေတဲ့အချိန်ခါ၊ ရွတ်ဆိုကျက်မှတ်နေတဲ့ အချိန်အခါမှာ ပေါ်ထွက်လာတဲ့ အသံတွေကို ကြားရပါလိမ့်မယ်၊ ကြားတဲ့ အသံသည် ရုပ်တရားပါ။ အသံဟာ နားဆီကို ရောက်လာမှ၊ နားနဲ့ထိခိုက်မှ ကြားတယ်။ နားထဲ အသံတွေဝင်မလာရင် မကြားရဘူး၊ အဲဒါကြောင့် အသံသည် ဒီခန္ဓာကိုယ်နဲ့ ဆက်စပ်နေတယ်။ ဒီခန္ဓာကိုယ်ကို အကြောင်းပြုပြီးမှ ဖြစ်ပါတယ်။

စကားသံတွေ ထွက်ပေါ်တဲ့နေရာကို ကြည့်လိုက်ရင်လည်းပဲ နှုတ်ခမ်းများကနေထွက်လာတယ်။ အဲဒီတော့ ဒီအသံဖြစ်ပေါ်တဲ့နေရာသည် ခန္ဓာကိုယ်ပါ၊ ဒီအသံတွေ ထိခိုက်ပြီး ကြားနေတဲ့ နားဆိုတာကလည်း ဒီခန္ဓာကိုယ်ပါ။ ဒါကြောင့် အသံသည် ကိုယ်နဲ့ဆက်စပ်နေတဲ့ ရုပ်တရားပါ။ ဝစီကံအနေနဲ့ စကားတွေပြောကြ၊ စကားသံတွေကြားကြတဲ့ အချိန်အခါတွေမှာလည်း ပေါ်လွင်ထင်ရှားနေတဲ့ ရုပ်. နာမ်တွေကို ရှုမှတ်နေရပါမယ်။

မနောကံ စိတ်က ကြံစည်နေလိမ့်မယ်၊ အကြောင်းအရာ တစ်ခုခုနဲ့ ဆက်နွယ်ပြီး စိတ်ထဲက ကြံစည်နေတယ်၊



စဉ်းစား တွေးတော အောက်မေ့နေတယ်။ အာရုံတစ်ခုခုကို အာရုံပြုနေပါတယ်၊ မနောကံ စိတ်အမှုအရာတွေ ဖြစ်ပေါ်နေတဲ့ချိန်ခါမှာလည်း နာမ်လို့ ရှုမှတ်နေရပါမယ်၊

ရှုမှတ်ရမယ့် ရှုကွက်က ရုပ်နာမ် နှစ်မျိုးတည်းပါ၊ ကာယကံအမှုမှာ ကိုယ်နဲ့ပြုနေတာက ရုပ် သိနေတာက နာမ်ပါ၊ ဝစီကံအမှုမှာ အသံဆိုတာ ရုပ်ပါ။ ကိုယ့်ဝန်းကျင်မှာ ပေါ်ထွက်နေတယ်၊ ကြားနေရတယ်၊ စကားသံတို့၊ လေတိုက် သံတို့၊ မိုးရွာသံတို့၊ ဒီအသံတွေကို ဒါက ရယ်သံ၊ ဒါက ဆူညံသံလို့ သိတာဆိုရင် နာမ်ပါ၊

မနောကံ စိတ်အကြံအစည်မှာဆိုရင်ဖြင့် တစ်မျိုးသာ လာလိမ့်မယ်၊ နာမ်တရားပါ။ အချိန်တိုင်း အချိန်တိုင်းမှာ၊ နေရာတိုင်း နေရာတိုင်းမှာ ဝစီကံ. မနောကံ လွတ်တဲ့အချိန်ဆိုတာ မရှိပါဘူး၊

စွဲစွဲမြဲမြဲ ရှုမှတ်မယ်ဆိုရင် ရှုမှတ်ရမယ့် အချိန်ချည်းပါပဲ။ ကျင့်မယ်ဆိုရင် ကျင့်ရမယ့် အချိန်ချည်းပါပဲ၊

ဘယ်အချိန်မှာပဲ ရှုမှတ် ရှုမှတ်၊ အချိန်မရွေး ရှုမှတ်လို့ ရပါတယ်၊ ဘယ်နေရာမှာ ရှုမှတ် ရှုမှတ်၊ ရှုမှတ်လို့ ရပါတယ်၊ တရားစခန်းမှာမှ ကျင့်နိုင်တာ မဟုတ်ပါဘူး၊ အိမ်မှာလည်း ကျင့်လို့ရတာပဲ၊ ဈေးသွားရင်း၊ ကျောင်းသွား ရင်းလည်း ကျင့်နိုင်ပါတယ်၊ ဈေးရောင်းရင်း၊ ဈေးဝယ်ရင်း လည်း တရား ကျင့်လို့ ရတာပါပဲ၊

အချိန်မရွေး နေရာမရွေး ရှုမှတ်လို့ ရပါတယ်၊ သတိလေးသာ ထားလိုက်ပါ။ အချိန်မရွေး နေရာမရွေးမှာ တရားကျင့်လို့ရပါတယ်၊

### * ခန္ဓာရှိတာ ကြည့်နေပါ၊ လျှင်စွာ သိဉာဏ် ပေါ်လာမည် *

ခန္ဓာထဲမှာ ဖြစ်နေတဲ့ သဘောတရားကို ကြည့်နေပါ။ ခန္ဓာထဲမှာ ရှိနေတာသည် ရုပ်နဲ့နာမ်ပါ။ ရုပ်နဲ့နာမ်ကို မပြတ်ကြည့်နေရမယ်၊ အလွတ်မနေရပါဘူး၊ ကိုယ်ဖြစ်စေ၊ စိတ်ဖြစ်စေ၊ ရုပ်တရားဖြစ်စေ၊ နာမ်တရား ဖြစ်စေ သတိထားကာ ကြည့်နေရမယ်၊ ရှုဉာဏ်နဲ့ ကြည့်နေ ရမယ်။ သတိနဲ့ကြည့်ပါ၊ ဉာဏ်နဲ့ကြည့်ပါ။ ဉာဏ်နဲ့ကြည့်ဆိုတာ ဘယ်ဟာက ရုပ်၊ ဘယ်ဟာက နာမ်လဲလို့ ခွဲခြားပြီးတော့ သိအောင်ကြည့်နေတဲ့ အသိဉာဏ်ပါ။ ဒါရုပ်ပဲ၊ ဒါနာမ်ပဲလို့ သိနေတဲ့ အသိဉာဏ်ပါ၊ အဲဒီလို ဉာဏ်က သိအောင် မြင်အောင်ပြပေးတာက သတိပါ။

မှောင်နေတဲ့နေရာမှာ အမှောင်ထုထဲမှာ ဒီအတိုင်း ကြည့်လို့ ဘယ်အရာဝတ္ထု ရှိတယ်ဆိုတာ မမြင်ရဘူး၊ မတွေ့ရဘူး။ လက်နှိပ်ဓာတ်မီးလေးများ ထိုးပြီးတော့ကြည့်ရင် မြင်ရပါတယ်၊ ဒီသဘောအတိုင်းပါပဲ၊ သတိက မီးမောင်းထိုးပြတယ်၊ ကြည့်စရာက ဒါပဲလို့ သတိက ညွှန်ပြပါတယ်။

သတိက ပြလိုက်တဲ့အခါမှာ အမှောင်ထဲက အရာဝတ္ထုကို ရှင်းရှင်းလင်းလင်း တွေ့သွားသလို ရှုမှတ်ရမယ့် သဘောတရားတွေကို တွေ့မြင် လာပါလိမ့်မယ်၊ ရုပ်နာမ်လို့ သိနေတာက အသိဉာဏ်ပါ၊ ကျင့်ကြံရှုမှတ်လိုက်ပါမှ ဉာဏ်ပေါ်



လာပါတယ်၊ သတိမရှိဘဲ အမှတ်တမဲ့ ဒီအတိုင်း နေလို့ရှိရင် အဲဒီဉာဏ်မျိုး မပေါ်ပါဘူး။

ဉာဏ် ဘယ်အချိန်ပေါ်လာသလဲ။ သတိထားကာ ကြည့်လိုက်တဲ့အချိန်ဆိုရင် ပေါ်လာတယ်၊ အရှုခံ ရုပ်နာမ်ကို ကြည့်နေရင် ပေါ်လာမယ်၊ ခန္ဓာရှိတာကို ကြည့်နေလိုက်ပါ။ ဉာဏ်ပေါ်လာပါမယ်။

မရှိတာကို လိုက်မရှာပါနဲ့၊ ခန္ဓာထဲမှာရှိတာကိုသာ ကြည့်နေပါ။

တရားအားထုတ်တယ်ဆိုတာ ရှိတာကြည့်နေတာပါ၊ ကိုယ့်ရှိတဲ့ သဘောတရားတွေကို သတိလေးနဲ့ ကြည့်နေတာပါ၊ ရုပ်တရားထင်ရှားရင် ရုပ်လို့ ရှုမှတ်နေမယ်။ နာမ်တရားထင်ရှားရင် နာမ်လို့ ရှုမှတ်နေမယ်ဆိုရင် ဉာဏ်တွေပေါ်လာလိမ့်မယ်။ ဝိပဿနာဉာဏ်တွေ ပေါ်ထွက်လာပါလိမ့်မယ်၊

ဝိပဿနာဉာဏ်တွေ အဆင့်ဆင့်ပေါ်ပြီဆိုရင် ပေါ်လာတဲ့ ဝိပဿနာဉာဏ်တွေ အခြေခံကာ မဂ်ဉာဏ်၊ ဖိုလ်ဉာဏ် ထပ်ဆင့် ပေါ်လာပါလိမ့်မယ်၊

### * သိဉာဏ် ပေါ်မှ ဝေဒိုးလိုရ နိဗ္ဗာန်ရလိမ့်မည် *

ခန္ဓာကြီးကို ကြည့်နေတဲ့အခါမှာ အသိဉာဏ် ပေါ်လာပါတယ်။ ဒီခန္ဓာကိုယ်ကို သတိထား စောင့်ကြည့်နေတဲ့ အရှုဉာဏ်နဲ့ ကြည့်ပါများ၊ ရှုပါများတဲ့အခါကျမှ ခန္ဓာရဲ့ သဘောတရားကို နားလည်လာပါမယ်၊

ရုပ်သဘောတွေကို နားလည်လာတယ်၊ နာမ်သဘောတွေကို နားလည်လာတယ်။ ကိုယ်ကိုယ်တိုင် သဘောပေါက်နားလည်တဲ့ အသိဉာဏ်ရအောင် အရှုဉာဏ်နဲ့ရင်းမှ ရပါမယ်။

အရှုဉာဏ်မပါဘဲနဲ့ အသိဉာဏ်မပေါ်ပါဘူး။ အသိဉာဏ်မပေါ်ဘဲနဲ့ မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်လည်း ဘယ်လိုမှ မရနိုင်ပါဘူး။ ဒါကြောင့် နိဗ္ဗာန်ရဖို့၊ မဂ်ဉာဏ် ဖိုလ်ဉာဏ်ရဖို့ အရေးကြီးတာသည် အရှုဉာဏ်ပါ။

အရှုဉာဏ်ကလည်း အရှုခံ မှန်မှရမယ်။ အရှုခံဟာ ရုပ်. နာမ် ဖြစ်ကိုဖြစ်နေရမယ်။ အရှုခံ ရုပ်. နာမ် ကို မပြတ်ကြည့်နေရမယ်။ ကြည့်ဆိုတော့ ဟိုဟိုဒီဒီ လိုက်ပြီးတော့ ကြည့်နေတာမျိုး မဟုတ်ပါဘူး။ မျက်လုံးဖွင့်ပြီးတော့ ဟိုငေးဒီငေးနေတာမျိုး၊ ဟိုလှုပ်ကိုက်လား ဒီလှုပ်ကိုက်လား ကြည့်နေတာမျိုး၊ ဒီလိုကြည့်တာမျိုး မဟုတ်ပါဘူး။

ကြည့်တယ်ဆိုတာ ဉာဏ်နဲ့ကြည့်တာပါ။ ဉာဏ်မျက်လုံးနဲ့ ကြည့်တာပါ။ ပကတိမျက်စိ၊ ပကတိ မျက်လုံးမှိတ်ထားပါ။ ဘယ်သူတွေ ဘာလုပ်နေလဲ၊ ဘယ်သူတွေဘာဖြစ်နေလဲ လိုက်မကြည့်နဲ့။ ခန္ဓာကို ဉာဏ်နဲ့ကြည့်ပါ။ ခန္ဓာအရှိကို ဉာဏ်နဲ့ကြည့်နေပါ။

ဉာဏ်နဲ့ကြည့်တဲ့အခါမှာ ပေါ်လာတဲ့ အသိဉာဏ်သည် မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်ကို ဖန်တီးပေးပါမယ်။ နိဗ္ဗာန်ကို ရယူပေးပါမယ်။ လိုချင်တဲ့တရားတွေ ရအောင် လုပ်ပေးပါလိမ့်မယ်။ ဒီလောက်ဆိုရင် ဘယ်လိုကျင့်ကြံအားထုတ်ရမလဲ ဆိုတဲ့ မေးခွန်း ပြေလည် လောက်ပါပြီ။

တရားအားထုတ်တဲ့ချိန်ခါမှာ အဓိကလိုရင်းအချက်က ကိုယ့်ရဲ့ခန္ဓာမှာ သတိထားပါ။ ရုပ်. နာမ် ကို တွေ့မြင်အောင် ရှုမှတ်ပွားများပါ။ ပေါ်လာတဲ့ ရုပ်. နာမ်၊ ထင်ရှားလာတဲ့ ရုပ်. နာမ်၊ ပေါ်လွင်ထင်ရှားတဲ့ရုပ်. နာမ်ကိုမပျင်းမရိကြိုးစားပြီး ထပ်ထပ်ခါခါ ရှုမှတ်နေပါလို့ တိုက်တွန်းချင်ပါတယ်။

ကိုယ်မှာထင်ရှားရင် ရုပ်တရား၊ စိတ်မှာထင်ရှားရင် နာမ်တရားလို့ အရှုခံထားရမယ့် တရားနှစ်မျိုးကို မပြတ်မလပ် တရစပ် ဆက်ကာဆက်ကာနဲ့ ဖြစ်နေအောင် ရှုမှတ်နေမယ် ဆိုရင် အသိဉာဏ်တွေ ပေါ်လာပါမယ်။

နိဗ္ဗာန်တိုင်အောင် ခရီးပေါက်ပါလိမ့်မယ်။ နိဗ္ဗာန်တိုင်အောင် ခရီးပေါက်အောင် ကျင့်ကြံပွားများ အားထုတ်နိုင်ကြသဖြင့် ဒုက္ခခပ်သိမ်းငြိမ်းရာအမှန် မြတ်နိဗ္ဗာန်ကို လျင်မြန်စွာ လွယ်ကူစွာနဲ့ ရနိုင်၊ ရောက်နိုင်၊ မျက်မှောက်ပြု နိုင်ကြပါစေကုန်သတည်းလို့ပဲ ဆုတောင်းရင်းနဲ့ တရား နိဂုံးချုပ်ကြပါစို့။ ■

**ဓမ္မဒူတဒေါက်တာအရှင်ဇနိသ**
ဓမ္မဒူတတောရ သာသနာ့ရိပ်သာ
ဆယ်မိုင်ကုန်း။
ဟံသာဝတီဓလက်ကွင်းအနီး၊ ပဲခူးမြို့။
ဖုန်း - ၀၉ - ၅၁၀ - ၄၆၆၉၊
၀၉ - ၈၆၅ - ၁၀၉၉

